




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၀၅၄/၉၇ ၁၉၉၇ ခုနှစ်၊ ဇန်နဝါရီ လ ၃ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးရွှေအောင်

(ခ) အဘအမည် ဦးခင်မောင်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် KTG-၀၀၅၉၀၀

(ဃ) နေရပ်လိပ်စာ အမှတ်၂၃(ဘီ/ဂ)၊ သုခဝတီလမ်း၊
ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း စီဒီအင်ဒတ်(စ်)ထရီ(စ်) အင်န်ကွန်စထရက်ရှင်းကုမ္ပဏီလီမိတက်(C.D Industries & Construction Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား သစ်အခြေခံစက်မှုလုပ်ငန်း
(သစ်အချောထည်များထုတ်လုပ်ဖြန့်ဖြူးခြင်း)

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ်(၃)၊(၄)၊(၅)၊(၆)
ဇုန်အမှတ်(၂)၊ စက်မှုဒေသ၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၆၇.၃ သန်း(ကျပ်ခြောက်ဆယ့်ခုနှစ်သန်းနှင့် သုံးသိန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြန်တမ်း

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၁/၉၇
ရန်ကုန်မြို့၊ ၁၃၅၈ ခုနှစ်၊ နတ်တော်လပြည့်ကျော် ၉ ရက်
(၁၉၉၇ ခုနှစ်၊ ဇန်နဝါရီလ ၃ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော စီဒီအင်တာထရိတ်ကုမ္ပဏီလီမိတက် ( C.D Intertrade Co., Ltd. ) သည် စီဒီအင်ဒတ်(စ်)ထရီ(စ်)အင်န်ကွန်စထရက်ရှင်းကုမ္ပဏီလီမိတက် ( C.D Industries & Construction Co., Ltd. ) တည်ထောင်၍ ရန်ကုန်မြို့၊ လှိုင်သာယာမြို့နယ်၊ စက်မှုဒေသ၊ ဇုန်အမှတ် (၂)၊ မြေကွက်အမှတ် (၃)(၄)(၅)(၆) ရှိ မြေ ၅.၂၆၄ ဧက (၂၁၃၀၂.၆၇ စတုရန်းမီတာ) တွင် စက်ရုံတည်ဆောက်ပြီး သစ်အခြေခံစက်မှုလုပ်ငန်း (သစ်အချောထည်များထုတ်လုပ်ဖြန့်ဖြူးခြင်း) ကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၀-၁၂-၉၆) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၉/၉၆) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့်သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ (၂၆-၁၂-၉၆) နေ့တွင်ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄၃/၉၆) ကြိမ်မြောက်အစည်းအဝေးသို့ ဒုတိယဝန်ကြီးချုပ်ရုံးမှတင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသောလုပ်ပိုင်ခွင့်များကိုကျင့်သုံး၍ စီဒီအင်ဒတ်(စ်)ထရီ(စ်)အင်န်ကွန်စထရက်ရှင်းကုမ္ပဏီလီမိတက် ( C.D Industries & Construction Co., Ltd. ) အား သစ်အခြေခံစက်မှုလုပ်ငန်း (သစ်အချောထည်များထုတ်လုပ်ဖြန့်ဖြူးခြင်း) ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၁၄/၉၇ ကိုထုတ်ပေးလိုက်သည်။

၂။ စီဒီအင်ဒတ်(စ်)ထရီ(စ်)အင်န်ကွန်စထရက်ရှင်းကုမ္ပဏီလီမိတက် ( C.D Industries & Construction Co., Ltd. ) အနေဖြင့် ၎င်းခွင့်ပြုမိန့်အရ သစ်အခြေခံစက်မှုလုပ်ငန်း (သစ်အချောထည်များထုတ်လုပ်ဖြန့်ဖြူးခြင်း) ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၇)၊ ပုဒ်မ ၁၂ အရ

ကုန်ထုတ်လုပ်မှုလုပ်ငန်းစတင်သောနှစ်အပါအဝင်တစ်ဆက်တည်း ( ၃ ) နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့်ဥပဒေပုဒ်မ ၁၃ ပါပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် ဤအမိန့်ကြော်ငြာစာ ကို ထုတ်ပြန်လိုက်သည်။

( က ) ဥပဒေပုဒ်မ ၁၃ ( က ) အရလုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သောနိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက်ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက်လုပ်ငန်းအကောင်အထည်ဖော်မှုအခြေအနေပေါ် မူတည်၍ ဤ ကော်မရှင်သို့ လျှောက်ထားရမည်။

( ခ ) ဥပဒေပုဒ်မ ၁၃ ( ခ ) အရလုပ်ငန်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့် အမြတ်ငွေအပေါ်တွင် ( ၅၀ ) ရာခိုင်နှုန်းအထိကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန်သက်သာခွင့်ခံစားနိုင်ရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့် ( ၃ ) နှစ်ခံစားပြီးနောက်လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကိုဖော်ပြလျက် ဤ ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

( ဂ ) ဥပဒေပုဒ်မ ၁၃ ( ဂ ) အရထုတ်လုပ်မှုလုပ်ငန်းကြောင့်သတ်မှတ်သည့်နှုန်းအထိပြည့်မွင်းပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ခံစားနိုင်ရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီးသည့်အခါလုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကိုဖော်ပြလျက် ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

( ဃ ) ဥပဒေပုဒ်မ ၁၃ ( စ ) အရလုပ်ငန်းမှရရှိသည့်အမြတ်ငွေကိုသီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေပေါ်တွင်ဝင်ငွေခွန်ကင်းလွတ်ခွင့် ( သို့မဟုတ် ) သက်သာခွင့် ခံစားနိုင်ရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီး၍အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါလုပ်ငန်းအမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကိုဖော်ပြလျက် ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

( င ) ဥပဒေပုဒ်မ ၁၃ ( ဆ ) အရလုပ်ငန်းသုံးမတည်ပစ္စည်းများအပေါ်တန်ဖိုးလျော့ငွေကိုသတ်မှတ်သည့်နှုန်းအတိုင်းနှစ်တိုတိုနှင့်မူလတန်ဖိုးပြည့်မီသည်အထိအမြတ်ငွေမှနုတ်ပယ်ခွင့်နှင့်စပ်လျဉ်း၍ယင်းတန်ဖိုးလျော့နှုန်းထားများကို ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ်လိုအပ်၍ ပြည်ပမှ တင်သွင်းလာသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာအစိတ်အပိုင်း လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ နှစ်မျိုးလုံးကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃ (ဈ) အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ (ဇ) အရ ပြည်ပမှတင်သွင်းသည့် စက်ပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေရရှိပုံနည်းလမ်း ( Source of Payments for Import ) ဥပမာ- ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ ( Loan and Credits ) ကုန်ပစ္စည်းပြန်လည်ဝယ်ယူသည့်စနစ် ( Buy-back System ) စသည်တို့ကို ဖော်ပြရန်၊

(ခ) တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ ဈေးနှုန်းများသင့်မြတ်မှုစသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာအသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် ( Inspection Agency ) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်၊

(ဂ) စစ်ဆေးရေးကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း ထောက်ခံလွှာ (Inspection Certificate ) ဖြင့် တင်သွင်းမည့်ပစ္စည်း အမျိုးအစားစာရင်း ( Invoice and Packing List ) များကို နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့သို့ တင်ပြ၍ ထောက်ခံချက်ရယူရန်။

၄။ စီဒီအင်ဒက်(စ်)ထရီ(စ်)အင်န်ကွန်စထရက်ရှင်း ကုမ္ပဏီလီမိတက် ( C.D Industries & Construction Co., Ltd. ) ကို မြန်မာကုမ္ပဏီများအက်ဥပဒေနှင့်အညီ မှတ်ပုံတင်နိုင်ရန်အတွက် ကုမ္ပဏီများညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါစာရွက်စာတမ်း (၃) စောင်စီကို ကော်မရှင်သို့ ပေးပို့တင်ပြရမည်။

(က) ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများညွှန်ကြားမှုဌာနကအတည်ပြုပြီးဖြစ်သည့်မြန်မာ-အင်္ဂလိပ်နှစ်ဘာသာဖြင့်ပြုစုထားသောကုမ္ပဏီ၏သင်းဖွဲ့စည်းမျဉ်းနှင့်သင်းဖွဲ့မှတ်တမ်းများ( Memorandum and Articles of Association )

၅။ ရင်းနှီးမြှုပ်နှံသူအနေဖြင့် မြေအသုံးပြုမှုနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းသတ်မှတ်ချက်များ ကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

၆။ စီဒီအင်ဒတ်(စ်)ထရီ(စ်)အင်န်ကွန်စထရက်ရှင်းကုမ္ပဏီလီမိတက် ( C.D Industries & Construction Co., Ltd. ) မှ နိုင်ငံခြားသားကျွမ်းကျင်သူများငှားရမ်းခွင့်ကိစ္စနှင့်စပ်လျဉ်း၍မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများအခန်း(၉)၊ အပိုဒ်-၃၃ပါသတ်မှတ်ချက်များနှင့်အညီ ကော်မရှင်သို့သီးခြားတင်ပြ လျှောက်ထားရမည်။

၇။ စီဒီအင်ဒတ်(စ်)ထရီ(စ်)အင်န်ကွန်စထရက်ရှင်းကုမ္ပဏီလီမိတက် (C.D Industries & Construction Co., Ltd. ) သို့ ခွင့်ပြုမိန့်အရ သစ်အခြေခံစက်မှုလုပ်ငန်း( သစ်အချောထည်များထုတ်လုပ်ဖြန့်ဖြူးခြင်း ) ဆောင်ရွက်ရာ၌ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှုစသည့်များမဖြစ်ပေါ်စေရန်အတွက်လိုအပ်သည့်ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းသိမ်းကာကွယ် ရေးအစီအမံများကိုစနစ်တကျထား၍ ဆောင်ရွက်ရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက်ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင်အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားမှုဦးစီးဌာန နှင့်ညှိနှိုင်း ဆောင်ရွက်ရမည်။

၉။ အဆိုပြုလုပ်ငန်းစတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤ ကော်မရှင်သို့ အမြန်ဆုံးအစီရင်ခံရမည်။

၁၀။ ဤခွင့်ပြုမိန့်ထုတ်ပေးသည့်နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

အမိန့်အရ—

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး
[ ဝန်ကြီး၊ ဒုတိယဝန်ကြီးချုပ်ရုံး ]

စာအမှတ်၊ ၇ဧ–၁/ ပ–၀၀၆/ ဧ၆(၁၅၀၅)၊
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ ဇန်နဝါရီလ ၃ ရက်။

ဖြန့်ဝေခြင်း။

၁။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ ဒုတိယဝန်ကြီးချုပ်ရုံး။
၅။ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။
၆။ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။
၇။ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန။
၈။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန။
၉။ အလုပ်သမားဝန်ကြီးဌာန။
၁၀။ သစ်တောရေးရာဝန်ကြီးဌာန။
၁၁။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်။
၁၂။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ဝင်။
( ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်းစာရင်းအင်းနှင့်စစ်ဆေးရေး ဦးစီးဌာန )
၁၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန။
၁၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားမှုဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သတ်လုပ်ငန်း။
၂၀။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်း။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန။
၂၂။ အုပ်ချုပ်မှုဒါရိုက်တာ၊ စီဒီအင်တာထရိတ်ကုမ္ပဏီလီမိတက်။
(C.D Intertrade Co., Ltd)

အမိန့်အရ —

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး ။



* ဗိန်၁-၁-၉၇။